ကန့်သတ်

ကုမ္ပဏီအမည် - MOS Lumber Products Co., Ltd.

လုပ်ငန်း: - ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် MOS Lumber Products Co.,Ltd. မှ ရော်ဘာသစ်သားထွက်ကုန်များကို ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၉-၁၀-၂၀၁၄ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ စိစစ်ရန် ပေးပို့ခြင်း | ၁၄-၉-၂၀၁၄ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေး ဦးစီးဌာန | ၁၄-၁၀-၂၀၁၄ | ၂၇-၁၀-၂၀၁၄ | |
| | (ခ) မွန်ပြည်နယ်အစိုးရအဖွဲ့ (ပထမအကြိမ်) | ၁၄-၁၀-၂၀၁၄ | ၃၀-၁၀-၂၀၁၄ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန (ပထမအကြိမ်) | ၁၄-၁၀-၂၀၁၄ | | |
| | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (ဒုတိယ အကြိမ်) | ၂၈-၁၀-၂၀၁၄ | ၃-၁၁-၂၀၁၄ | |
| | (ဃ) စက်မှုဝန်ကြီးဌာန (ပထမအကြိမ်) | ၁၄-၁၀-၂၀၁၄ | | |
| | စက်မှုဝန်ကြီးဌာန (ဒုတိယ အကြိမ်) | ၂၈-၁၀-၂၀၁၄ | ၂၈ -၁၀-၂၀၁၄ | |
| | (င) လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်း ဝန်ကြီးဌာန(ပထမအကြိမ်) | ၁၄-၁၀-၂၀၁၄ | ၇-၁၁-၂၀၁၄ | |
| ၃ | PAT တင်ပြခြင်း | ၁၃-၁၀-၂၀၁၄ ၄၀/၂၀၁၄ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၁၄-၁၀-၂၀၁၄ | | |
| ၅ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၂၂-၁၀-၂၀၁၄ | | |
| ၆ | ကုမ္ပဏီ မှ အဆိုပြုချက် ပြန်လည်ပြင်ဆင် တင်ပြလာသည့်နေ့ | ၁၄-၁၁-၂၀၁၄ | | တွက်ချက်မှုများပြန်လည်ပြင်ဆင်ခြင်းဖြစ်ပါသည်။ |
| ၇ | ကုမ္ပဏီမှ အဆိုပြုချက် (၁၀) စုံ ပေးပို့ခြင်း | ၁၄-၁၁-၂၀၁၄ | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၃၆ ရက် | | |

ကန့်သတ်



| | |
|---|---|
| ကုမ္ပဏီအမည် | - MOS Lumber Products Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - ရော်ဘာသစ်သားထွက်ကုန်များကို ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့နယ်၊ မော်လမြိုင်-ကျိုက္ခမီလမ်းမကြီး၊ ရိုးဂိုးကျေးရွာအုပ်စု၊ ကွင်းအမှတ် -၈၁၄ (ဖားအောက်တောကွင်း)၊ ဦးပိုင်အမှတ် (၁၀/၂) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၃.၅၅၀ သန်း |
| ရောင်းချမည့်စနစ် | - ပြည်ပပို့ လေးဘက်ချော ၂၄% ပြည်တွင်းရောင်း ၁၅% နှင့် Saw Dust ပြည်တွင်းရောင်း ၁၅% ရောင်းချမည်ဖြစ်ပါသည်။ |
| လုပ်ငန်းသက်တမ်း | - ၅၀ နှစ် |
| အရင်းကြေကာလ | - ၂ နှစ် ၆ လ |
| IRR | - ၂၀.၇၀% |

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်။

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၁.၅၄၈ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁၀၆.၇၀၀ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | ၈.၇၃၀ | ၂၉.၁၀၀ |
| ၅ | ဝင်ငွေခွန် | ၆၀၇.၁၆၃ | ၁၄၇၄.၄၀၀ |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၃၀၇၅.၈၇၀ |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း နှစ်ဆယ်ထက်ကျော် ပါကအခွန်ပေးရမည့်ဝန်ထမ်း(၁၇)ဦး |
| ၈ | CSR (၂%) | | ၁၀၇.၆၇၀ |
| ၉ | မြေငှားရမ်းခရငွေ | | ၁၀၉.၁၂၅ |
| ၁၀ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်း ၉၄ ဦး<br>ပြည်ပ ၁ ဦး<br>ပြည်တွင်းလုပ်သား (၉၄) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ၇၂၄.၁၄၁ | ၄၇၉၇.၃၃၀ |
| | Cost & Benefit | ၁း၇ | |

-အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် MOS Lumber Products Co.,Ltd. မှ ရော်ဘာသစ်သားထွက်ကုန်များကို ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ

| | | | | |
|---|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - MOS Lumber Products Co.,Ltd.<br>- ဦးဇော်လင်းဦး | | |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်ရင်းနှီးမြှုပ်နှံမှု<br>- Oji Forest & Products Co., Ltd. (ဂျပန်) ၅၄%<br>- Sumitomo Forestry (Singapore) Ltd. (စင်္ကာပူ)၂၆%<br>- Moe Mya Chai Co., Ltd. (မြန်မာ) ၂၀% | | |
| | လုပ်ငန်းအမျိုးအစား | - ရော်ဘာ သစ်သား ထွက်ကုန်များကို ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း | | |
| ၂။ | တည်နေရာ | - မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့နယ်၊ မော်လမြိုင် - ကျိုက္ခမီလမ်းမကြီး၊ ရိုးဂိုးကျေးရွာအုပ်စု၊ ကွင်းအမှတ် - ၈၁၄ ဖားအောက်တောကွင်း၊ ဦးပိုင်အမှတ်(၁၁/၂) | | |
| | မြေပိုင်ရှင် | - စက်မှုသီးနှံ ဖွံ့ဖြိုးရေး ဦးစီးဌာန၊ လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | | |
| | မြေအကျယ်အဝန်း | - စုစုပေါင်း ၁.၅ ဧက (၆,၀၇၀.၂၉ စတုရန်း မီတာ) | | |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ်လျှင် US$ ၉,၀၀၀.၀၀ ဖြင့် ၅၀ နှစ် အတွက် US$ ၀.၄၅ သန်း<br>- တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၁.၅၀ နှုန်း | | |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် | | |
| | တည်ဆောက်ရေးကာလ | - ၁၂ လ | | |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၃.၄၅ သန်း | | |
| | ထည့်ဝင်သည့်အမျိုးအစား | Foreign Capital (US$ သန်း) | Local Capital (US$ သန်း) | စုစုပေါင်း (US$ သန်း) |
| | ငွေသား | ၀.၇၀ | - | ၀.၇၀ |
| | ချေးငွေ | ၁.၂၀ | - | ၁.၂၀ |
| | စက်နှင့် စက်ပစ္စည်း | ၁.၁၀ | - | ၁.၁၀ |
| | မြေနှင့် အဆောက်အဦငှားရမ်းခ | - | ၀.၄၅ | ၀.၄၅ |
| | **စုစုပေါင်း** | ၃.၀၀ | ၀.၄၅ | **၃.၄၅** |
| ၆။ | ဝန်ထမ်းအင်အား | - **၉၅ ဦး** | | |
| | ပြည်တွင်း | - ၉၄ ဦး ( ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ US$ ၉၈.၅၀ နှင့်အမြင့်ဆုံးလစာ US$ ၃,၀၀၀.၀၀) | | |
| | ပြည်ပ | - ၁ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ လစာ US$ ၁,၀၀၀.၀၀ ) | | |

| | | |
|---|---|---|
| ၇။ | ရောင်းချမည့်စနစ် | - လေးဘက်ချော ၂၄ % ပြည်ပပို့၊ ပြည်တွင်းရောင်း ၁၅%နှင့် Saw Dust ၁၅% ဖြစ်ပြီး ၄၆% မှာ Outer bark and Saw Dust usuage for Boiler အတွက်ဖြစ်ပါသည်။ |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဌမမြောက်နှစ်)<br>ကုမ္ပဏီ၏ အသုံးစရိတ်<br>အသားတင်အမြတ်(ဆဌမမြောက်နှစ်) | - US$ ၂.၈၃၀ သန်း<br>- US$ ၂.၅၁၂ သန်း<br>- US$ ၀.၃၁၈ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန်(၅%)<br>အရင်းကြေကာလ<br>အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | <br>- US$ ၀.၁၀၆ သန်း<br>- US$ ၀.၀၀၂ သန်း<br>- ၂ နှစ် ၆ လ<br>- ၂၁.၇% |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၁,၇၉၂ MWh |
| ၁၁။ | CSR | - ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ စောင့်ကြည့်လေ့လာမည့် လုပ်ငန်းများအတွက် ကျန်းမာရေး၊ လူမှုရေး၊ သက်သာချောင်ချိရေး ကိစ္စရပ်များတွင် သုံးစွဲနိုင်ရန် အသားတင်အမြတ်ငွေမှ ၂% ကို ရန်ပုံငွေအဖြစ် လျာထားပါကြောင်း တင်ပြထားပါသည်။ |
| ၁၂။ | မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | - ခေတ်မီ မီးသတ်ဆေးဘူးများ၊ သဲအိတ်များ၊ မီးလောင်လျှင် ဆောင်ရွက်ရမည့်နည်းလမ်းများအား လွယ်ကူလျှင်မြန်စွာ အသုံးပြုနိုင်ရန် စက်ရုံရှိ အခန်းတိုင်းတွင် ထားရှိမည် ဖြစ်ကြောင်း၊ မီးသတ်ရေလှောင်ကန်များအား အဆင်သင့် အသုံးပြုနိုင်ရန် ထားရှိမည်ဖြစ်ကြောင်း၊ ပုံမှန်မီးသတ် လေ့ကျင့်ရေး သင်တန်းများကိုလည်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊ စက်ရုံတွင်း ဆေးလိပ်သောက်ခြင်းကိုလည်း တင်းကျပ်စွာ တားမြစ်ထားမည်ဖြစ်ကြောင်း စသည့် အစီအစဉ်များကို တင်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက - ၂/နှ - ၁၁၀ / ၂၀၁၄ ( ၆၁၉၈ )
ရက်စွဲ ၊ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၁၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **MOS Lumber Products Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရော်ဘာသစ်သားထွက်ကုန်များကို ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံမှ Moe Mya Chai Co., Ltd. ၂၀% ၊ ဂျပန်နိုင်ငံမှ Oji Forest & Products Co., Ltd. မှ ၅၄% နှင့် စင်္ကာပူနိုင်ငံမှ Sumitomo Forestry (Singapore) Ltd. မှ ၂၆% အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့နယ်၊ မော်လမြိုင် - ကျိုက္ခမီလမ်းမကြီး၊ ရိုးဂိုးကျေးရွာအုပ်စု၊ ကွင်းအမှတ် -၈၁၄ ဖားအောက်တောကွင်း၊ ဦးပိုင်အမှတ်- (၁၁/၂) ရှိ မြေအကျယ် (၁.၅) ဧကတွင် MOS Lumber Products Company Limited တည်ထောင်၍ ရော်ဘာသစ်သားထွက်ကုန်များကို ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။

၂။ အဆိုပြုချက်နှင့်အတူ စက်မှု သီးနှံဖွံ့ဖြိုးရေး ဦးစီးဌာန၊ လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန မှ Moe Mya Chai Co., Ltd. က ငှားရမ်းထားသောမြေကို MOS Lumber Products Co., Ltd. သို့ထပ်မံငှားရမ်းခြင်းအတွက် Moe Mya Chai Co., Ltd.နှင့် MOS Lumber Products Co., Ltd.တို့ ချုပ်ဆိုမည့် ထပ်ဆင့်မြေငှားရမ်းသဘောတူစာချုပ် (မူကြမ်း) ကို တင်ပြထားပါသည်။

၃။ မြေအကျယ်အဝန်းမှာ ၁.၅ ဧက (၆,၀၇၀.၂၉ စတုရန်း မီတာ) ဖြစ်ပြီး နှစ်စဉ် မြေငှားရမ်းခမှာ တစ်နှစ်လျှင် US$ ၉,၀၀၀.၀၀ ဖြင့် ၅၀ နှစ် အတွက် US$ ၀.၄၅ သန်းဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၃.၄၅ သန်းတွင် ဈေးငွေ ၃၄.၇% ပါဝင်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | Foreign Capital (US$ သန်း) | Local Capital (US$ သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၀.၇၀ | - | ၀.၇၀ |
| (ခ) | ဈေးငွေ | ၁.၂၀ | - | ၁.၂၀ |
| (ဂ) | စက်နှင့် စက်ပစ္စည်း | ၁.၁၀ | - | ၁.၁၀ |
| (ဃ) | မြေနှင့် အဆောက်အဦ ငှားရမ်းခ | - | ၀.၄၅ | ၀.၄၅ |
| | **စုစုပေါင်း** | ၃.၀၀ | ၀.၄၅ | ၃.၄၅ |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ (၉၄) ဦးနှင့် ပြည်ပမှ ကျွမ်းကျင်ဝန်ထမ်းဦးရေ (၁) ဦး စုစုပေါင်း (၉၅) ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်း ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာ အမေရိကန် ဒေါ်လာ ၉၈.၅၀ နှင့် အမြင့်ဆုံးလစာ အမေရိကန် ဒေါ်လာ ၃၀၀၀ ဖြစ်ကြောင်းနှင့် ပြည်ပ ဝန်ထမ်းတစ်ဦး၏ လစာမှာ အမေရိကန် ဒေါ်လာ ၁၀၀၀ ဖြစ် ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ပစ္စည်းများအား ပြည်ပပို့ လေးဘက်ချော ၂၄ % ပြည်တွင်းရောင်း ၁၅% နှင့် Saw Dust ၁၅% ရောင်းချမည်ဖြစ်ပါသည်။ နှစ်စဉ်ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်း မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **စဉ်** | **အမျိုးအမည်** | **အရေအတွက် ($m^3$)** | **ရောင်းချမည့် ဈေးနှုန်း (US$/ $m^3$)** |
|---|---|---|---|
| (က) | S4S-A (လေးဘက် ချောသစ်) ၂၄% ပြည်ပပို့ | ၆၀၀၀ | ၄၆၅.၀၀ |
| (ခ) | Outer bark ၁၅% ပြည်တွင်းရောင်း | ၃၇၅၀ | ၆.၅၀ |
| (ဂ) | Saw Dust ၁၅% ပြည်တွင်းရောင်း | ၃၇၅၀ | ၃.၅၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | **အမေရိကန်ဒေါ်လာ (သန်း)** |
|---|---|---|
| (က) | ဝင်ငွေ | ၂.၈၃၀ |
| (ခ) | အသုံးစရိတ် | ၂.၅၁၂ |
| (ဂ) | အသားတင်အမြတ် | ၀.၃၁၈ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ဆဌမမြောက်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၁၀၆ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၂ နှစ်နှင့် ၆လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၁.၇ရာခိုင်နှုန်း ဖြစ် ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား ထားပါသည်-

(က) **မွန်ပြည်နယ်အစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါကြောင်း၊ ဖော်ပြပါမြေနေရာတွင် လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ဒေသခံများက လူမှုရေး၊ စီးပွားရေး လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်းနှင့် အဆိုပါ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထားပြန်ကြား ထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းများ ရေးဆွဲချမှတ်ခြင်း၊ လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် နည်းလမ်း အစီအမံများ ထည့်သွင်း ဆောင်ရွက်ရန်၊ ရာဘာသစ်အခြေခံ ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ် ခြင်း (IEE) ဆောင်ရွက်ပြီး အစီရင်ခံစာတင်ပြရန်၊ အထက်ပါလေ့လာဆန်းစစ် မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်း အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး စီမံချက် (EMP) ရေးဆွဲတင်ပြရန်နှင့် အစီရင်ခံစာအရ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပြဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၏စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြား ထားပါသည်။ **နောက်ဆက်တွဲ-ဂ**

(ဃ) **လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ** ပြဋ္ဌာန်းထားရှိပြီးသော ဥပဒေ၊နည်းဥပဒေ၊လုပ်ထုံးလုပ်နည်းများနှင့်အညီဆက်လက်ဆောင်ရွက်သွားရန် လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-ဃ**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ C B Bank မှ (၂၆-၅-၂၀၁၄) ရက်စွဲဖြင့် Moe Mya Chai Co., Ltd. သည် A/C No. 163 (2006-2007) ဖြင့်ကျပ် ၁၇၄,၆၂၃,၅၂၅.၀၀ ရှိကြောင်း၊ ဂျပန်နိုင်ငံရှိ Sumitomo Mitsui Banking Corporation မှ (၂၂-၅-၁၄) ရက်စွဲဖြင့် Oji Forest & Products Co., Ltd. သည် US$ ၅,၂၀၃,၆၈၄.၂၆ ရှိကြောင်း နှင့် စင်္ကာပူနိုင်ငံရှိ Sumitomo Mitsui Banking Corporation မှ (၁၀-၄-၁၄) ရက်စွဲဖြင့် Sumitomo Forestry (Singapore) Ltd. ၏ ငွေကြေးအထောက်အထားများကို တင်ပြထားပါ သည်။

၁၂။ MOS Lumber Products Company Limited မှ သဘာဝပတ်ဝန်းကျင်ဆိုင်ရာ ကနဦး ဆန်းစစ်ခြင်း (IEE) နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက် (EMP) လုပ်ငန်းအစီရင်ခံစာ အပြည့်အစုံကို ဆက်လက်တင်ပြမည်ဖြစ်ကြောင်း တင်ပြစာ၊ မီးဘေးကာကွယ်ရေးစီမံချက်၊ အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့်အခြေအနေ၊ လုပ်ငန်းခွင်သာယာရေး နှင့် ဝန်ထမ်း သက်သာချောင်ချိရေးစီမံချက်၊ ကျန်းမာရေးစောင့်ရှောက်မှုစီမံချက်၊ လစာခွန်ပေးဆောင်မည် ဖြစ်ကြောင်းဝန်ခံကတိပြုခြင်း သဘာဝပတ်ဝန်းကျင်ဆိုင်ရာကနဦးဆန်းစစ်ခြင်း နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်၊ လုပ်ငန်းသဘောသဘာဝ၊ လျှပ်စစ် ဓာတ်အား ရယူသုံးစွဲ မည့် အစီအစဉ်များကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉ / ၂၀၁၄ ၏ စီးပွားရေး လုပ်ငန်း အမျိုး အစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်း စာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်း အမျိုးအစားဖြစ်ပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၁၃ ရက်နေ့ တွင် ကျင်းပပြုလုပ် သည့် ၄၀/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

(က) စက်မှုသီးနှံဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် မွန်ပြည်နယ်၊ မော်လမြိုင်မြို့နယ်ရှိ ရိုးကိုး ရော်ဘာသစ် စမ်းသပ်ထုတ်လုပ်ရေး စက်ရုံအား Moe Mya Chai Co., Ltd. သို့ နှစ်ရှည် ၂၀ နှစ် ငှားရမ်းပြီး Sumitomo Forestry (Singapore) Ltd.၊ Oji Forest & Products Co., Ltd. များနှင့် ဖက်စပ် ကုမ္ပဏီ တည်ထောင်၍ ခေတ်မီတန် (၈၀၀) ရော်ဘာ သစ်ခွဲသားစက်ရုံ တိုးချဲ့ ဆောက်လုပ်ခွင့်ပြုရန် ကိစ္စကို ၂-၁၀-၂၀၁၄ ရက်နေ့တွင် ကျင်းပသော စီးပွားရေးရာ ကော်မတီ အစည်းအဝေး (၃၁/၂၀၁၄) ကြိမ်မြောက် အစည်းအဝေးဆုံးဖြတ်ချက်အရ နိုင်ငံတော်သမ္မတရုံးမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြဆောင်ရွက်သွားရန် အကြောင်းကြားခဲ့ပါသည်။

(ခ) ပြည်ထောင်စု ရှေ့နေချုပ်ရုံးမှ သဘောထားမှတ်ချက်နှင့်အညီ စက်မှုသီးနှံဖွံ့ဖြိုးရေး ဦးစီးဌာနနှင့် မိုးမြချယ်ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုထားသည့် ရိုးကိုးရော်ဘာ စမ်းသပ်ထုတ်လုပ်ရေး စက်ရုံနှင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်အား ပြင်ဆင်သည့်စာချုပ်တွင် ပြည်ပကုမ္ပဏီများနှင့် ပူးပေါင်း၍ Joint Venture စနစ်ဖြင့် ဆောင်ရွက်မည်ဆိုပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၆ (စ) အရ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်နိုင်ကြောင်း ဖော်ပြပါရှိပါသည်။

**ဆုံးဖြတ်ရန်အချက်**

မြန်မာနိုင်ငံမှ Moe Mya Chai Co., Ltd. မှ ၂၀%၊ ဂျပန်နိုင်ငံမှ Oji Forest & Products Co., Ltd. မှ ၅၄% နှင့် စင်္ကာပူနိုင်ငံမှ Sumitomo Forestry (Singapore) Ltd. မှ ၂၆% အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့နယ်၊ မော်လမြိုင် - ကျိုက္ခမီလမ်းမကြီး၊ ရိုးကိုးကျေးရွာအုပ်စု၊ ကွင်းအမှတ် -၈၁၄ ဖားအောက်တောကွင်း၊ ဦးပိုင်အမှတ်- (၁၁/၂) ရှိ မြေအကျယ် (၁.၅) ဧကတွင် MOS Lumber Products Company Limited တည်ထောင်၍ ရော်ဘာသစ်သားထွက်ကုန်များကို ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ၊

ရုံးလက်ခံ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | MOS Lumber Products Co.,Ltd. | (၁) ဦးဇော်လင်း<br>၁၂/လမန(နိုင်) ဝ၂၁၆၃၈<br>(၂) ဒေါ်သူဇာချယ်<br>၁၂/လမန(နိုင်) ဝ၈၁၆၇၅<br>(၃)Mr.Hironobu Ohara<br>Japanese<br>PPNo-TH 4654977<br>(၄)Mr.Seiro Tokunaga<br>Japanese<br>PPNo-TZ 0803967<br>(၅)Mr.Makoto Watanbe<br>Japanese<br>PPNo-TK 2390826<br>(၆)Mr.Michihiro Sakurai<br>Japanese<br>PPNo-Tk 3574966<br>(၇) Mr.Kunihiro Okamoto<br>Japanese<br>PPNo-TH 4989922<br>(၈)Mr.Shinichi Kawazoe<br>Japanese<br>PPNo-TH 5495356 | အမှတ်(၂၁၂)၊ အကွက်အမှတ်(ခ)၊ အခန်း(၁၀၁)၊ ရွှေဂုံတိုင်တာဝါ၊ ရွှေဂုံတိုင်လမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်။<br>အမှတ်(၂၁၂)၊ အကွက်အမှတ်(ခ)၊ အခန်း(၁၀၁)၊ ရွှေဂုံတိုင်တာဝါ၊ ရွှေဂုံတိုင်လမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်။<br>7-5, Ginza 4-chome, Chuo-ku, Tokyo, 104-0061.<br>7-5, Ginza 4-chome, Chuo-ku, Tokyo, 104-0061.<br>7-5, Ginza 4-chome, Chuo-ku, Tokyo, 104-0061.<br>7-5, Ginza 4-chome, Chuo-ku, Tokyo, 104-0061.<br>55, Market Street,# 11-02, Singapore, 048941.<br>55, Market Street,# 11-02, Singapore, 048941. |

| | | |
|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - ၀၉-၄၃၁၄၂၇၂၇ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - အမှတ်(၂၁၂)၊အကွက်အမှတ်(ခ)၊အခန်း(၁၀၁)၊ရွှေဂုံတိုင်တာဝါ၊ရွှေဂုံတိုင်လမ်း၊ဗဟန်းမြို့နယ်၊ရန်ကုန်။ |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဒေါ်သူဇာချယ် (ဒါရိုက်တာ) |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - ရော်ဘာ သစ်သားထွက်ကုန်များကို ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - - |

## ကန့်သတ်

၁၂

နောက်ဆက်တွဲ-က




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
မွန်ပြည်နယ်

စာအမှတ်၊ ၃၀၀ / ၁ - ၇/ ဝ၁၇ (မွန်)
ရက်စွဲ၊၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ၂၈ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊နေပြည်တော်၏ (၄-၁၀-၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ရက-၂ / နု - ၁၁၀ / ၂၀၁၄ (၀၁၄၆၀)

၁။ ဂျပန်နိုင်ငံ Oji Forest & Prodycts Co ; Ltd မှ ၅၆ % ၊ စင်္ကာပူနိုင်ငံ Sumitomo Forestry မှ ၂၄ % နှင့် မြန်မာနိုင်ငံ Moe Mya Chai Co ; Ltd မှ ၂၀% ပါဝင်၍မွန်ပြည်နယ် မော်လမြိုင်မြို့ ၊ ကျိုက္ကမီလမ်းမကြီး ၊ ရိုးဂိုးကျေးရွာ ၊ ဖားအောက်တောကွင်း မြေတိုင်းရပ်ကွက်အမှတ်(၈၁၇) အမှတ် (၁၁/၂) ရှိ မြေဧရိယာ (၁. ၅)ဧကတွင် MOS Lumber Products Co; Ltd တည်ထောင်၍ ရာဘာ နှင့် အခြားအပင်များမှ သစ်သားထွက်ကုန်များ ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်း လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ အရ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြထားပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း(၆)အပိုဒ်(၄၃)ပါ ပြဋ္ဌာန်းချက်နှင့်အညီအဆိုပြုချက်ကို ကော်မရှင်ကစိစစ်ရာတွင် သက်ဆိုင်ရာပြည်နယ်/တိုင်းဒေသကြီး အစိုးရ၏ သဘောထားများကို ရယူရန်လိုအပ်ကြောင်း ၊ သက်ဆိုင်ရာဝန်ကြီးချုပ်ကိုယ်တိုင်စိစစ်ထောက်ခံ ပေးနိုင်ပါရန် နှင့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ အပိုဒ် (၄၄)နှင့်အညီ သဘောထားမှတ်ချက်နှင့်အတူရက်ကာလ်ဘက် ကာလအတွင်းပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသဖြင့် အောက်ပါအတိုင်းပြန်ကြားအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့် နေရာသည်နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်ခြင်း (မရှိပါ)

(ခ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့်ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ (ဖြစ်ပါသည်)

(ဂ) ဖော်ပြပါမြေနေရာတွင် လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ဒေသခံများက လူမှုရေးစီးပွားရေး သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း (ရှိပါသည်)

(ဃ) ပြည်နယ်အစိုးရအဖွဲ့၏ အကြံပြုချက် အနေဖြင့် (ကန့်ကွက်ရန်မရှိပါ)

Thaung Nu (II)
39

၉။ သို့ဖြစ်ပါ၍ ဒေသခံ ပြည်သူများအတွက် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုရှိခြင်း ၊ ကျေးရွာပြည်သူလူထုများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ဖော်ဆောင်ပေးနိုင်ခြင်းများကြောင့်(၂၄-၁၀-၂၀၁၄)ရက်နေ့ မွန်ပြည်နယ်အစိုးရအဖွဲ့အစည်းအဝေးဆုံးဖြတ်ချက် အပိုဒ် (၂) အရ ပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း နှင့် ဆောင်ရွက်သင့်သော လုပ်ငန်းတစ်ခုဖြစ်ကြောင်း အကြံပြု ပြန်ကြားပါသည်။

ဦးအုန်းမြင့်
ပြည်နယ်ဝန်ကြီးချုပ်

မိတ္တူကို

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး ၊ နေပြည်တော်

MOS Lumber Products Co; Ltd

ရုံးလက်ခံစာတွဲ





# ကန့်သတ်



နောက်ဆက်တွဲ- ခ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀(ခ)(၆)/( ၈၁၇၉ /၂၀၁၄)
ရက်စွဲ ၂၀၁၄ခုနှစ်၊အောက်တိုဘာလ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက် တင်ပြခြင်းကိစ္စ</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၁၄-၁၀- ၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက-၂/န-၁၁၀/၂၀၁၄ (၀၁၄၆-ဂ)

၁။ အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ ဂျပန်နိုင်ငံ Oji Forest & Products Co., Ltd မှ (၅၆%)၊ စင်္ကာပူနိုင်ငံ Sumitomo Forestry မှ (၂၄%) နှင့် မြန်မာနိုင်ငံ Moe Mya Chai Co., Ltd မှ (၂၀%) ပါဝင်၍ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့နယ်၊ မော်လမြိုင်-ကျိုက္ခမီလမ်းမကြီး၊ ရိုးဂိုးကျေးရွာ၊ ဖားအောက်တောကွင်း၊ မြေတိုင်းရပ်ကွက်အမှတ်(၈၁၄)၊ အမှတ်(၁၁/၂) ရှိ မြေအကျယ်(၁.၅ ကေ)တွင် MOS Lumber Products Co., Ltd တည်ထောင်၍ ရာဘာပင်မှ သစ်သားထွက်ကုန်များကို ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်း လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စအပေါ် စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၂။ ပေးပို့လာသောအဆိုပြုလွှာတွင် တည်ဆောက်ရေးကာလမှာ (၁)နှစ်ဖြစ်၍ ရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀)နှစ်ဖြစ်ပါကြောင်း၊ မီးဘေးလုံခြုံရေးစီမံချက်များလည်း စီမံဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများသက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် ရန်ပုံငွေများ ထားရှိပေးသွားမည်ဖြစ်ကြောင်း ၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရေးအတွက် စက်ရုံစီမံကိန်းဧရိယာပတ်လည်တွင် လေထု ၊ ရေထု နှင့် မြေထုတို့ ညစ်ညမ်းမှုမရှိအောင် ကာကွယ်လုပ်ဆောင်သွားမည်ဖြစ်ကြောင်း နှင့် ရေဆိုးသန့်စင်သည့်စနစ်လည်း အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။

၃။ ရာဘာခွဲသားနှင့် တန်ဖိုးမြင့်သစ်အခြေခံကုန်ပစ္စည်း ထုတ်လုပ်ခြင်းလုပ်ငန်းတွင် ဓါတုဗေဒပစ္စည်းများအား သုံးစွဲရန်လိုအပ်မည်ဖြစ်ပါသဖြင့် အဆိုပါ ကုန်ကြမ်းပစ္စည်းများ သိုလှောင်ခြင်း၊ သုံးစွဲခြင်း၊ လုပ်ငန်းအဆင့်ဆင့်မှ စွန့်ပစ်ပစ္စည်း နှင့် စွန့်ပစ်အရည်များ ၊ သစ်အမှုန်အမွှားများ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်ရှိ ရေ ၊ လေ ၊ မြေ ညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း၊ စက်ရုံ လည်ပတ်ခြင်းမှ ထွက်ရှိလာသည့်ဆူညံသံများကြောင့် အသံညစ်ညမ်းမှုနှင့် စက်ရုံဧရိယာအနီး ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေး ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ MOS Lumber Products Co., Ltd ၏ ရာဘာပင်မှ သစ်သားထွက်ကုန်များထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်-

(က) ကုန်ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းများ ရေးဆွဲချမှတ်ခြင်း၊ လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာအချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းအစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

(ခ) ရာဘာသစ် အခြေခံကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) ဆောင်ရွက်ပြီး အစီရင်ခံစာတင်ပြရန်၊

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက် ( Environmental Management Plan - EMP ) ရေးဆွဲတင်ပြရန်နှင့် အစီရင်ခံစာ အရ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာတိုင်းဒေသကြီး / ပြည်နယ်အစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ - ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန





နောက်ဆက်တွဲ-ဂ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၄-၂၀၁၅ ( ၃၄၃၀ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၄.၁၀.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရကာ-၂/န-၁၁၀/၂၀၁၄ (၁၁၄၆-၈)

၁။ MOS Lumber Products Co.,Ltd. သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့နယ်၊ မော်လမြိုင်-ကျိုက္ခမိလမ်းမကြီး၊ ရိုးဂိုးကျေးရွာ၊ ဖားအောက်တောကွင်း၊ မြေတိုင်းရပ်ကွက်အမှတ်(၈၁၄)၊ အမှတ်(၁၁/၂)တွင် ရာဘာနှင့် အခြားအပင်များမှ သစ်သားထွက်ကုန်များကို ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်းစိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး ရာဘာနှင့် အခြားအပင်များမှ သစ်သားထွက်ကုန်များကို ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီစစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဃ) ကုန်ကြမ်းနှင့်ကုန်ချောထွက်ရှိမှု တင်ပြထားချက် ဆီလျော်မှု ရှိပါသည်။

(င) ကုန်ကြမ်းနှင့် ကုန်ချောဈေးနှုန်း တင်ပြထားချက် ဆီလျော်မှု ရှိပါသည်။

(စ) စက်အင်အား/လူအင်အား အချိုးအစားတင်ပြထားချက် ဆီလျော်မှု ရှိပါသည်။

၃။ သို့ပါ၍ MOS Lumber Products Co.,Ltd. မှ ရာဘာနှင့် အခြားအပင်များမှ သစ်သား ထွက်ကုန်များကို ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှု လုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၈. ၁၀. ၂၀၁၄

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(မိုးဆွေ၊ ဒုတိယရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း



နောက်ဆက်တွဲ-ဃ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ် ၊ ၁၁/MOS Lumber(၆၁၀ /၂၀၁၄)
ရက်စွဲ ၊ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှပ်နှံမှုကော်မရှင်၏ (၁၄.၁၀.၂၀၁၄)ရက်စွဲပါ စာအမှတ် ရက-၂/န-၁၁၀/၂၀၁၄(၀၁၄၆-ဃ)

၁။ ဂျပန်နိုင်ငံ Oji Forest Products Co.,Ltd မှ ၅၆% ၊ စင်္ကာပူနိုင်ငံ Sumitomo Forest မှ ၂၄%နှင့် မြန်မာနိုင်ငံ Moe Mya Chai Co., Ltd မှ ၂၀% အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် MOS Lumber Products Co.,Ltd တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှပ်နှံမှု ဖြင့် မွန်ပြည်နယ် ၊ မော်လမြိုင်ခရိုင် ၊ မော်လမြိုင်မြို့နယ် ၊ မော်လမြိုင်-ကျိုက္ကမီလမ်းမကြီး ၊ ရိုးဂိုးကျေးရွာ ၊ ဖားအောက်တောကွင်း၊မြေတိုင်းရပ်ကွက်အမှတ်(၈၁၄) ၊ အမှတ်-(၁၁/၂)ရှိ မြေအကျယ်(၁.၅)ဧကပေါ်တွင် ရော်ဘာနှင့်အခြားအပင်များမှ သစ်သားထွက်ကုန်များကို ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာသည့် ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ပြဋ္ဌာန်းထားရှိပြီးဖြစ်သော ဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန်ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(ကျော်ရွှေ ၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ။

ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ် ၊ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန
ရုံးလက်ခံ / မျှောစာတွဲ